ကုမ္ပဏီအမည် - Myanmar Golden Bonanza Services Co., Ltd.

လုပ်ငန်း - ခဲမဖြူ၊ အဖြိုက်နက်နှင့် ရှီးလိုက်ရောရာ သတ္တုများကို ခွဲခြား သန့်စင်ခြင်း လုပ်ငန်း

| စဥ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၆-၇-၂၀၁၄ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံ ရေးဦးစီးဌာန | ၂၈-၇-၂၀၁၄ | ၁၂-၈-၂၀၁၄ | |
| | (ခ) ကယားပြည်နယ်အစိုးရအဖွဲ့ရုံး | ၃၁-၇-၂၀၁၄ | ၂၇-၈-၂၀၁၄ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန | ၃၁-၇-၂၀၁၄ | ၂၀-၈-၂၀၁၄ | |
| | ထပ်မံပို့ | ၁၂ - ၉-၂၀၁၄ | | |
| | (ဃ) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန | ၃၁-၇-၂၀၁၄ | ၁၉-၈-၂၀၁၄ | |
| | ထပ်မံပို့ | ၆ - ၉-၂၀၁၄ | ၁၇ - ၉-၂၀၁၄ | |
| | (င) စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန | ၃၁-၇-၂၀၁၄ | ၁၂-၈-၂၀၁၄ | |
| | (စ) သတ္တုတွင်းဝန်ကြီးဌာနမှ ပြန်လည် တင်ပြလာခြင်း | ၅-၈-၂၀၁၄ | ၃၀-၆-၂၀၁၄<br>၁၇-၁၀-၂၀၁၄ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၂၈/၂၀၁၄) သို့ တင်ပြခြင်း | ၂၁-၇-၂၀၁၄ | | |
| ၄ | အဆိုပြုချက်လက်ခံကြောင်းပြန်ကြားခြင်း | ၄-၈-၂၀၁၄ | | |
| ၅ | မြေအသုံးပြုခွင့်တင်ပြခြင်း | - | - | အမှတ်(၂) သတ္တုတွင်းလုပ်ငန်း ပိုင်မြေ |
| ၆ | ကုမ္ပဏီမှ လိုအပ်ချက် ပြင်ဆင် တင်ပြခြင်း | | ၂၁-၁၀-၂၀၁၄ | |
| ၇ | ကုမ္ပဏီမှ အဆိုပြုလွှာ ပေးပို့ခြင်း | | ၃၀-၁၀-၂၀၁၄ | |
| ၈ | **စုစုပေါင်း ကြာမြင့်ရက် (၇၈)ရက်** | | | |

အကြောင်းအရာ။ Myanmar Golden Bonanza Services Co., Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ခဲမဖြူ အဖြူကြက်နက်နှင့် ရိုးလိုက်ရောရာ သတ္တုများကို ခွဲခြား သန့်စင်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ကမကထပြုသူ | - Myanmar Golden Bonanza Services Co., Ltd.<br>- ဦးအိုက်ဝမ် |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Hunan Jin Mu Industrial Co., Ltd. (China) ၉၅ %<br>- ဦးအိုက်ဝမ် (မြန်မာနိုင်ငံ) ၅ % |
| | လုပ်ငန်းအမျိုးအစား | - ခဲမဖြူ အဖြူကြက်နက်နှင့် ရိုးလိုက်ရောရာ သတ္တုများကို ခွဲခြား သန့်စင်ခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ (စက်ရုံ)<br>(ဝန်ထမ်းအဆောင်) | - ကယားပြည်နယ်၊ လွိုင်ကော်မြို့နယ်၊ မထောခုကျေးရွာအုပ်စု၊ ရေနီကန်ရွာကွင်း၊ အကွက်အမှတ် ၂၄၉ ၊ ဦးပိုင်အမှတ် ၃၀<br>- ကယားပြည်နယ်၊ လွိုင်ကော်မြို့နယ်၊ ပန်ကန် ကျေးရွာအုပ်စု၊ ဇရပ်ဖြူ အရှေ့ ကွင်း၊ အကွက်အမှတ် ၂၀၅ ၊ ဦးပိုင်အမှတ် ၃ |
| | မြေအကျယ်အဝန်း<br>စက်ရုံ ဧရိယာ<br>ဝန်ထမ်းအဆောင်ဧရိယာ<br>မြေပိုင်ရှင် | - မြေ ၂၇.၂ ဧက (၁၁၀,၀၇၄.၅၉၂ စတုရန်းမီတာ)<br>၆.၆ ဧက (၂၆,၇၀၉.၂၇၆ စတုရန်းမီတာ)<br>၂၀.၆ ဧက (၈၃,၃၆၅.၃၁၆ စတုရန်းမီတာ)<br>- အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၊ သတ္တုတွင်းဝန်ကြီးဌာန |
| ၃။ | နှစ်စဉ်မြေ ငှားရမ်းခ | - ကျပ် ၁၈၂.၄ သိန်း |
| | Signature Bonus | - ကျပ် ၄၀ သိန်း |
| | မြေငှားရမ်းကာလ | - ကနဦး ၁၅ နှစ် နှင့် နောက်ထပ် ၅ နှစ် ၃ ကြိမ် |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၁၅ နှစ် နှင့် နောက်ထပ် ၅ နှစ် ၃ ကြိမ် |
| | အဆောက်အဦပြင်ဆင်ကာလ | - ၃ လ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၂,၄၃၁,၂၁၆ |
| | ထည့်ဝင်သည့် အမျိုးအစား | |

| | (ပြည်ပ) | (ပြည်တွင်း) | US$ စုစုပေါင်း |
|---|---|---|---|
| Building renovation | ၁၀၀,၀၀၀ | | ၁၀၀,၀၀၀ |
| Mechanical upgrading | ၇၉,၆၀၂ | | ၇၉,၆၀၂ |
| Electrical upgrading | ၂၆,၅၃၃ | | ၂၆,၅၃၃ |
| Operation vehicle (Import) | ၁၅၄,၀၀၀ | | ၁၅၄,၀၀၀ |
| Signature Bonus | ၄၀,၈၀၆ | | ၄၀,၈၀၆ |
| Security deposit | ၅၁,၀၂၀ | | ၅၁,၀၂၀ |
| Taking over spare parts in store at cost | ၁,၆၀၃ | | ၁,၆၀၃ |
| Taking over vehicle spare parts in store at cost | ၁၃၂ | | ၁၃၂ |
| water treatment system | | ၄၀,၈၀၀ | ၄၀,၈၀၀ |
| Raw Material cost for 6 months | ၁,၇၈၃,၆၂၅ | ၅၃,၀၇၅ | ၁,၈၃၆,၇၀၀ |
| Working capital | ၇၂,၃၀၀ | | ၇၂,၃၀၀ |
| Amount of cash | | ၂၇,၆၉၀ | ၂၇,၆၉၀ |
| စုစုပေါင်း | ၂,၃၀၉,၆၅၁ | ၁၂၁,၅၆၅ | ၂,၄၃၁,၂၁၆ |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား | - ၁၂၃ ဦး |
| | ပြည်တွင်း | - ၁၁၃ဦး အနိမ့်ဆုံးဝန်ထမ်းလစာမှာ US$ ၁၀၀<br>အမြင့်ဆုံးဝန်ထမ်းလစာမှာ US$ ၁,၅၀၀ |
| | ပြည်ပ | - ၁၀ ဦး အနိမ့်ဆုံးလစာမှာ US$ ၁,၀၀၀<br>အမြင့်ဆုံးလစာမှာ US$ ၁,၆၀၀ |
| ၇။ | ရောင်းချမည့် နည်းစနစ် | - Export on LME price basis |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဌမနှစ်) | - US$ ၇.၈၀၁ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် | - US$ ၇.၁၅၅ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် | - US$ ၀.၆၄၆ သန်း |
| ၉။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (ဆဌမနှစ်) | |
| | ဝင်ငွေခွန် | - US$ ၀.၂၁၅ သန်း |
| | အရင်းကြေကာလ | - ၄ နှစ် |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၆.၆၀ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု(နှစ်စဉ်) | - ၃၀၀ KVA |
| ၁၁။ | ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့် တောင်းခံခြင်း | |
| | Operation vehicle (Import) | - US$ ၁၅၄,၀၀၀ တန်ဘိုးရှိ စာရင်းကို ပူးတွဲဖြင့် တင်ပြထားပါသည်။ |
| ၁၂။ | CSR | - ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ လုပ်ငန်းများအတွက် နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂ % ကို အသုံးပြုမည် ဟု တင်ပြထားပါသည်။ |
| ၁၃။ | မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက် | - မီးဘေးကြိုတင်ကာကွယ်ရေးအတွက် စည်းကမ်းချက်များ ချမှတ်ထားပြီး ၎င်းစည်းကမ်းချက်များကို ဝန်ထမ်းများအား တိကျစွာ လိုက်နာဆောင်ရွက်ရန်လည်း စီမံထားကြောင်း၊ မီးဘေးလုံခြုံရေး စီမံချက်၊ အရေးပေါ်ကာကွယ် တားဆီးမှု စီမံချက်များ ပါဝင်သည့် အစီရင်ခံစာကို တင်ပြထားပါသည်။ |

Myanmar Golden Bonanza Services Co., Ltd.
Operation vehicle to be imported as capital in kind

Annex-C11

| Sr.No | Items | Specification | Qty | UP US$ | Amount US$ |
|---|---|---|---|---|---|
| 1 | Wheel loader | 5 Ton | 2 | 30,000 | 60,000 |
| 2 | Tipper | 10 wheel | 2 | 20,000 | 40,000 |
| 3 | Folklift | 2 Ton | 2 | 15,000 | 30,000 |
| 4 | Double cab | | 2 | 12,000 | 24,000 |
| | | | | | 154,000 |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Myanmar Golden Bonanza Services Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | ခဲမဖြူ အဖြိုက်နက်နှင့် ရှိုးလိုက်ရောရာ သတ္တုများကို ခွဲခြား သန့်စင်ခြင်း လုပ်ငန်း |
| တည်နေရာ (စက်ရုံ) | - | ကယားပြည်နယ်၊ လွိုင်ကော်မြို့နယ်၊ မထောခုကျေးရွာအုပ်စု၊ ရေနီကန်ရွာကွင်း၊ အကွက်အမှတ် ၂၄၉၊ ဦးပိုင်အမှတ် ၃၀ |
| (ဝန်ထမ်းအဆောင်) | | ကယားပြည်နယ်၊ လွိုင်ကော်မြို့နယ်၊ ပန်ကန်ကျေးရွာအုပ်စု၊ ဇရပ်ဖြူ အရှေ့ကွင်း၊ အကွက်အမှတ် ၂၀၅၊ ဦးပိုင်အမှတ် ၃ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | US$ ၂,၄၃၁,၂၁၆ |
| ရောင်းချမည့်စနစ် | - | Export on LME price basis |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၁၅ နှစ် နှင့် နောက်ထပ် ၅ နှစ် ၃ ကြိမ် |
| အရင်းကြေကာလ | - | ၄နှစ် |
| IRR | - | ၂၆.၆၀% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည် -

| စဥ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၆၈ သန်း | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၂ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၇.၅၄၆ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၈၈၅.၀၃၈ သန်း | ကျပ် ၂,၁၁၁.၄၈၄ သန်း |
| ၅ | လောင်စာဆီ/လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၄၅၀ သန်း |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ် သိန်း (၂၀) ကျော် ပါက အခွန်ပေးရမည့်ဝန်ထမ်း (၄၈) ဦး |
| ၇ | CSR (၂%) | | ကျပ် ၁၂၆.၆၈၅ သန်း |
| ၈ | မြေနှင့်အဆောက်အဦငှားရမ်းခရငွေ | | ကျပ် ၁,၈၂၄ သန်း |
| ၉ | Signature Bonus | | ကျပ် ၄၀ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၁၃ဦး<br>ပြည်ပ ၁၀ ဦး<br>ပြည်တွင်းလုပ်သား (၁၁၃) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူပြုစေပါသည်။<br>အလုပ်အကိုင်အခွင့်အလမ်းများပိုမိုရရှိစေပြီးဆင်းရဲနွမ်းပါးမှု လျော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | စုစုပေါင်း | ကျပ် ၈၉၄.၂၆၄ သန်း | ကျပ် ၄,၅၅၃.၃၆၉ သန်း |
| | | ၁း၅ | |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၅(သ)/၀၀၁/၂၀၁၄( ၈၂ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ နိုဝင်ဘာလ ၄ ရက်

### မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြမည့် အမှာစာ

အကြောင်းအရာ။ **Myanmar Golden Bonanza Services Co., Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ခဲမဖြူ အဖြိုက်နက်နှင့် ရှီးလိုက်ရောရာ သတ္တုများကို ခွဲခြား သန့်စင်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ**

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံ Hunan Jin Mu Industrial Co., Ltd. မှ ၉၅ % နှင့် မြန်မာနိုင်ငံသား ဦးအိုက်ဝမ် မှ ၅% ထည့်ဝင်ကာ မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Golden Bonanza Services Co., Ltd. တည်ထောင်ပြီး ကယားပြည်နယ်၊ လွိုင်ကော်မြို့နယ်၊ မထောခုကျေးရွာအုပ်စု၊ ရေနီကန်ရွာကွင်း၊ အကွက်အမှတ်၂၄၉၊ ဦးပိုင်အမှတ် ၃၀ ရှိ ၆.၆ ဧက (၂၆,၇၀၉.၂၇၆ စတုရန်းမီတာ)တွင် စက်ရုံ နှင့် ကယားပြည်နယ်၊ လွိုင်ကော်မြို့နယ်၊ ပန်ကန်ကျေးရွာ အုပ်စု၊ ဇရပ်ဖြူအရှေ့ကွင်း၊ အကွက်အမှတ်၂၀၅၊ ဦးပိုင်အမှတ် ၃ ရှိ ၂၀.၆ ဧက (၈၃,၃၆၅.၃၁၆ စတုရန်းမီတာ) တွင် ဝန်ထမ်းအဆောင်တို့ပါဝင်သည့် စုစုပေါင်းမြေ ၂၇.၂ ဧက (၁၁၀,၀၇၄.၅၉၂ စတုရန်းမီတာ) အား အမှတ်(၂) သတ္တုတွင်းလုပ်ငန်း၊ သတ္တုတွင်း ဝန်ကြီးဌာနမှ ငှားရမ်း၍ ခဲမဖြူ အဖြိုက်နက်နှင့် ရှီးလိုက်ရောရာ သတ္တုများကို ခွဲခြားသန့်စင်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုလွှာ တင်ပြလာပါ သည်။

၂။ သတ္တုတွင်းဝန်ကြီးဌာန စီမံခန့်ခွဲရေးကော်မတီ၏ ၂၀၁၃ခုနှစ်၊ ဩဂုတ်လ ၂၃ ရက်နေ့ တွင် ကျင်းပသည့် (၂၆/၂၀၁၃) ကြိမ်မြောက် အစည်းအဝေးမှ Myanmar Golden Bonanza Services Co., Ltd. အမည်ဖြင့် တင်ဒါအောင်မြင်သော ကုမ္ပဏီဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ အကြံပြုချက်နှင့်အညီ ပြင်ဆင်ထားသည့် အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၊ သတ္တုတွင်း ဝန်ကြီးဌာနနှင့် Myanmar Golden Bonanza Services Co., Ltd. တို့ချုပ်ဆိုထားမည့် ငှားရမ်း ခြင်းဆိုင်ရာ လုပ်ငန်းသဘောတူစာချုပ်(မူကြမ်း)နှင့် လုပ်ငန်းတည်နေရာ ပြမြေပုံများကို ပူးတွဲတင်ပြ ထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် စက်ရုံ၊ အဆောက်အဦ၊ ဝန်ထမ်းအဆောင်နှင့် စက်ကိရိယာများအား တစ်လလျှင် ငှားရမ်းခ ကျပ် ၁၅၂ သိန်း နှုန်းဖြင့် တစ်နှစ် ငှားရမ်းခမှာ ကျပ် ၁၈၂.၄ သန်း နှင့် အဆိုပြုငွေ (Signature Bonus) ကျပ် ၄၀ သန်းကို သတ္တုတွင်းဝန်ကြီးဌာနသို့ ပေးသွင်းရမည် ဖြစ်ပါသည်။ မြေငှားရမ်းကာလမှာ ကနဦး ၁၅ နှစ်နှင့် ၅ နှစ် ၃ကြိမ် သက်တမ်းတိုး ဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ လုပ်ငန်း စီမံကိန်းကာလမှာ ကနဦး ၁၅ နှစ်နှင့် ၅ နှစ် ၃ ကြိမ် သက်တမ်းတိုး၍ ဆောင်ရွက်မည်ဖြစ်ပြီး စက်ရုံအဆောက်အဦ ပြင်ဆင်မည့်ကာလမှာ ၃လ ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ US$ ၂,၄၃၁,၂၁၆ ဖြစ်ပြီး၊ ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(US$)

| | ပြည်ပ | ပြည်တွင်း | စုစုပေါင်း |
|---|---|---|---|
| Building renovation | ၁၀၀,၀၀၀ | | ၁၀၀,၀၀၀ |
| Mechanical upgrading | ၇၉,၆၀၂ | | ၇၉,၆၀၂ |
| Electrical upgrading | ၂၆,၅၃၃ | | ၂၆,၅၃၃ |
| Operation vehicle (Import) | ၁၅၄,၀၀၀ | | ၁၅၄,၀၀၀ |
| Signature Bonus | ၄၀,၈၁၆ | | ၄၀,၈၁၆ |
| Security deposit | ၅၁,၀၂၀ | | ၅၁,၀၂၀ |
| Taking over spare parts in store at cost | ၁,၆၀၃ | | ၁,၆၀၃ |
| Taking over vehicle spare parts in store at cost | ၁၃၂ | | ၁၃၂ |
| Water treatment system | | ၄၀,၈၀၀ | ၄၀,၈၀၀ |
| Raw Material cost for 6 months | ၁,၇၈၃,၆၂၅ | ၅၃,၀၇၅ | ၁,၈၃၆,၇၀၀ |
| Working capital | ၇၂,၃၀၀ | | ၇၂,၃၀၀ |
| Amount of cash | | ၂၇,၆၉၀ | ၂၇,၆၉၀ |
| စုစုပေါင်း | ၂,၃၀၉,၆၅၁ | ၁၂၁,၅၆၅ | ၂,၄၃၁,၂၁၆ |

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်းဦးရေ ၁၁၃ ဦး နှင့် ပြည်ပမှ ကျွမ်းကျင်ဝန်ထမ်းဦးရေ ၁၀ ဦး စုစုပေါင်း ၁၂၃ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်း တစ်ဦး ၏ အနိမ့်ဆုံးလစာမှာ US$ ၁၀၀ ဖြစ်ပြီး၊ အမြင့်ဆုံးလစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။ ပြည်ပ

ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၀၀၀ ဖြစ်ပြီး၊ အမြင့်ဆုံးလစာမှာ US$ ၁,၆၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော ခဲမဖြူ အဖြိုက်နက်နှင့် ရှီးလိုက်ရောရာ သတ္တုများကို London Metal Exchange ဈေးနှုန်းဖြင့် ပြည်ပ သို့ ၁၀၀ % တင်ပို့ရောင်းချမည် ဖြစ်ပါသည်။ ကုမ္ပဏီမှ ပုံမှန်နှစ် ၆ နှစ်မြောက် ထုတ်လုပ်မှုနှင့် ရောင်းချမည့် ဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | TON | Price/ Ton US$(သန်း) |
|---|---|---|
| Recovered Tin in metallic form (44% of raw material ) | ၂၆၄ | ၀.၀၁၈ |
| Recovered Tungstean metallic form(20% of raw material ) | ၁၂၀ | ၀.၀၂၁ |
| Recovered Scheelite metallic form(5 % of raw material ) | ၃၀ | ၀.၀၂၁ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် ၆ နှစ်မြောက်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | US$(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၇.၈၀၁ သန်း |
| ( ခ ) | အသုံးစရိတ် | ၇.၁၅၅ သန်း |
| ( ဂ ) | အသားတင်အမြတ် | ၀.၆၄၆ သန်း |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်၆နှစ်မြောက်တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၀.၂၁၅ သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၄ နှစ်ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၂၆.၆၀ % ဖြစ်ပါသည်။ အမေရိကန်တစ်ဒေါ်လာလျှင် ကျပ် ၉၈၀ နှုန်းဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားလာပါသည်-

(က) **ကယားပြည်နယ် ပြည်နယ်အစိုးရအဖွဲ့ရုံး** မှ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်း မရှိပါကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်ပါကြောင်း၊ ဖော်ပြပါ မြေနေရာအား အဆိုပြု လုပ်ငန်း

ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း၊ လက်ရှိအသုံးပြုနေသော ရေဆိုးသန့်စင်ရေးစနစ်ဖြစ်သည့် အနည်ထိုင်သန့်စင်ခြင်း စနစ်တွင် နောက်ဆုံးရေလှောင်ကန် အပါအဝင် အနည်ထိုင်ကန်များအား ပိုမိုသန့်စင်စေရေးအတွက် ရေကန်အတွင်းဗေဒါပင်များ ထည့်သွင်းစိုက်ပျိုး ဆောင်ရွက်သင့်ပါကြောင်း၊ ဆက်လက် တည်ဆောက်မည့် ရေဆိုး သန့်စင်ရေးစနစ်တွင် ပိုမိုကောင်းမွန်သောနည်းပညာများကို အသုံးပြု၍ ရေဆိုး သန့်စင်ပြီး (Recycle) ပြုလုပ်၍ ပြန်လည် သုံးစွဲခြင်း (Reuse) ပြုလုပ်သင့်ပါကြောင်း၊ ပတ်ဝန်းကျင် ထိခိုက်နိုင်မှု ရှိ/ မရှိ ရှေးဦး စစ်ဆေးချက် Initial Environmental Examination (IEE) အရပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနသို့ ရေးဆွဲတင်ပြထားသည့် Environmental Management Plan (EMP)ပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်မှုရှိ/ မရှိကို တစ်နှစ်လျှင်(၂) ကြိမ် ကျွမ်းကျင် ပညာရှင်များအဖွဲ့ဖြင့် စစ်ဆေးသင့်ပါကြောင်း၊ စက်ရုံတည်ဆောက်ရခြင်းနှင့် ပတ်သက်၍ ဒေသခံပြည်သူများ ခံစားရရှိမည့် အကျိုးစီးပွားကို ကျေးရွာသို့ ကွင်းဆင်းပြီး ဒေသခံပြည်သူများနှင့် Public Consultation ကို ပိုမိုလုပ်ကိုင်ရန်နှင့် Corporate Social Responsibility (CSR) အနေဖြင့် ဒေသဖွံ့ဖြိုးရေး လုပ်ငန်းများကို ယခုထက် ပိုမိုဆောင်ရွက်ပေးခြင်းဖြင့် ဒေသပြည်သူများ၏ ယုံကြည်မှုကို ပိုမိုရရှိစေမည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **၂၀၁၄ခုနှစ်၊ ဇူလိုင်လတွင် Myanmar Golden Bonanza Services Co., Ltd. မှ ရေနီကန်ရွာကွင်း၏ စာသင်ကျောင်းများအတွက် လိုအပ်သော စာအုပ်များ၊ အိမ်သာ များအား ကျပ် ၂.၁သန်း သုံးစွဲပြီး ဖြစ်ပါကြောင်း၊ အခြားလိုအပ်ချက်များအားလိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။**

**နောက်ဆက်တွဲ-က**

(ခ ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနမှ** ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း အစီရင်ခံစာ (Initial Environmental Examination - IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဥ် (Environmental Management Plan - EMP)တို့ပါဝင်ပြီး ငှားရမ်းမည့်စာချုပ် သက်တမ်းမှာ ၁၅နှစ် ဖြစ်ကြောင်း ဖော်ပြထားသည့်ကို စိစစ်တွေ့ရှိရပါကြောင်း၊ ထွက်ရှိလာသည့် အမှုန်အမွှားများသည် လေထု ညစ်ညမ်းစေကာ စက်ရုံလုပ်သားများ၏ ကျန်းမာရေးနှင့် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းနှင့် အများ ဖြစ်ပေါ်နိုင်သောကြောင့် လေထု ညစ်ညမ်းမှု ထိန်းချုပ်နိုင်မည့်

စက်ပစ္စည်း/နည်းစနစ်များ ထည့်သွင်း ဆောင်ရွက်ရန်၊ ခဲမဖြူ အဖြိုက်နက်နှင့် ရှီးလိုက်ရောရာ သတ္တုရိုင်းကုန်ကြမ်းများကို စနစ်တကျ သိုလှောင်ထားခြင်း၊ စုပုံထားခြင်းမရှိပါက မြေထုနှင့်ရေထု ညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်သဖြင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်အောင် ဆောင်ရွက်ရန်၊ အဆိုပြု လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် စက်ပစ္စည်းများ ထပ်မံဖြည့်ဆည်း ဆောင်ရွက်ရန်နှင့် အမှုန်အမွှားထွက်ရှိမှု လျော့နည်းသက်သာစေသည့် နည်းစနစ်များဖြင့် ဆောင်ရွက်ရန်၊ ရေးဆွဲထားသည့် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial EnvironmentalExamination - IEE) အစီရင်ခံစာအရ စောင့်ကြပ်ကြည့်ရှုစစ်ဆေးသည့်စနစ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေနှင့် လုပ်ငန်းပြီးဆုံးချိန်တွင် ဆက်လက်ဆောင်ရွက်မည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်း အစီအမံများအား ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan) တွင်ထည့်သွင်းရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်း ရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊ သက်ဆိုင်ရာတိုင်းဒေသကြီး / ပြည်နယ် အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများရယူ ဆောင်ရွက်ရမည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ IEE နှင့် EMP အစီရင်ခံစာ တင်ပြထားပါသည်။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားနှင့်အညီ IEE နှင့် EMP အစီရင်ခံစာများတွင် လိုအပ်သော အချက်အလက်များ ထပ်မံဖြည့်စွက်ထားသည့် တင်ပြစာအား ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန သို့ ပေးပို့ထားပြီးဖြစ်ပါသည်။ နောက်ဆက်တွဲ-ခ**

(ဂ) **လျှပ်စစ်စွမ်းအားဝန်ကြီးဌာန** မှ လုပ်ငန်းတည်နေရာ မြေပုံညွှန်းအား မြေပုံပေါ်တွင် လေ့လာချက်အရ သတ္တုသန့်စင် စက်ရုံတည်နေရာသည် ဘီလူးချောင်းနှင့် မိုင်ဝက်ခန့် ကွာဝေးပြီး အဓိရေသွယ်မြောင်းနှင့် (၂)မိုင်၊ (၂)ဖာလုံခန့် ကွာဝေးပါကြောင်း၊ အဆိုပါ တည်နေရာ အနီးတွင် ရေအားလျှပ်စစ် စီမံကိန်းအသစ် ထပ်မံ ဆောင်ရွက်ရန် မရှိပါကြောင်း၊ သတ္တုသန့်စင်စက်ရုံ၏ ရေဆိုးထုတ်စနစ်သည် ဘီလူးချောင်းနှင့် ဆက်သွယ်

ထားပါက အဓိက ရေသွယ်မြောင်းမှတဆင့် ဘီလူးချောင်း အမှတ်(၁)၊ (၂)နှင့် (၃) ရေအားလျှပ်စစ်စက်ရုံများသို့ ရောက်ရှိ သက်ရောက်နိုင်သောကြောင့် ရေဆိုးထုတ်စနစ်အား စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ဆက်သွယ်မှုမရှိပါက မှတ်ချက်ပြုရန် မရှိပါကြောင်းနှင့် လုပ်ငန်းတည်နေရာမြေပုံညွှန်းကို မြေပုံပေါ်တွင် လေ့လာချက်အရ ရေအားလျှပ်စစ်စက်ရုံများနှင့် ဆက်စပ်တည်ရှိမှု မြေပုံနှင့်အတူ မှတ်ချက်ပြု ပြန်ကြားလာပါသည်။ **ကုမ္ပဏီမှ လုပ်ငန်းတည်နေရာပြ မြေပုံညွှန်းအား လျှပ်စစ် စွမ်းအားဝန်ကြီးဌာနသို့ ပြန်လည် ပေးပို့ပြီးဖြစ်ပါသည်။ နောက်ဆက်တွဲ-ဂ**

(ဃ) **စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနမှ** အဆိုပြုချက်ပါ ကုမ္ပဏီမှ တင်ပြထားသည့် နှစ်စဉ်တင်သွင်းမည့် ကုန်ကြမ်းပစ္စည်းများအား စိစစ်ရာတွင် သတ္တုရိုင်းများဖြစ်သော Ore(Mixed Tin,Tungsten and Scheelite)များမှာ မြန်မာနိုင်ငံအတွင်းသို့ တင်သွင်းရန်ကန့်သတ် ပိတ်ပင်ထားခြင်းမရှိသည့် ပစ္စည်းများသာဖြစ်ကြောင်း၊ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနအနေဖြင့် သီးခြား သဘောထားမှတ်ချက် ပြုရန် မရှိကြောင်းနှင့် ကုန်သွယ်မှု ရှုထောင့်မှ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-ဃ**

(င) **သတ္တုတွင်းဝန်ကြီးဌာနမှ** ရင်းနှီးမြှုပ်နှံမှုအဆိုပြုလွှာအား အဆိုပြုချက်အစည်းအဝေး ၂၀၁၄ ခုနှစ် ဇူလိုင်လ ၂၁ ရက် နေ့တွင် ကျင်းပပြုလုပ်သော ၂၈/၂၀၁၄ ကြိမ်မြောက် အစည်းအဝေး၏ ဆုံးဖြတ်ချက်နှင့်အညီ ပြည့်စုံစွာ တင်ပြထားပါကြောင်း၊ ပြန်လည်ပြင်ဆင်ထားသည့် ဌာနရမ်းရေးဆိုင်ရာ သဘောတူစာချုပ် (မူကြမ်း)အား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားအတိုင်း ပြင်ဆင်ဆောင်ရွက်ထားပါကြောင်း ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-င**

၁၁။ ငွေကြေး အထောက်အထားအဖြစ် Myanmar Golden Bonanza Services Co., Ltd. သည် ကမ္ဘောဇဘဏ်၌ ၁၂-၉-၂၀၁၄ နေ့တွင် အမေရိကန်ဒေါ်လာ ၅၅၀,၀၅၂.၇၀ နှင့် ကျပ် ၁,၅၄၅ သန်းရှိကြောင်း တင်ပြထားပါသည်။

၁၂။ မီးဘေး ကြိုတင်ကာကွယ်ရေးအတွက် စည်းကမ်းချက်များ ချမှတ်ထားပါကြောင်း၊ ၎င်းစည်းကမ်းချက်များကို ဝန်ထမ်းများအား တိကျစွာ လိုက်နာဆောင်ရွက်ရန်လည်း စီမံထားကြောင်း၊ အရေးပေါ်ကာကွယ်တားဆီးမှု စီမံချက်များ ပါဝင်သည့် အစီရင်ခံစာနှင့် အလုပ်သမား ဘေးအန္တရာယ်ကင်းရှင်းရေး စီမံချက်များအား တင်ပြထားပါသည်။

၁၃။ ဝန်ထမ်းများ၏ လုပ်ခမှ လစာဝင်ငွေခွန် ထမ်းဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ Myanmar Golden Bonanza Services Co., Ltd. အနေဖြင့် လုပ်ငန်းလည်ပတ်မှုမှ ရရှိမည်ဟု ခန့်မှန်း ထားသည့် အသားတင် အမြတ်ငွေမှ ၂ % ကို ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် လုပ်ငန်းအစီအစဉ်များနှင့် ဝန်ထမ်းများ၊ အလုပ်သမားများအတွက် ကျန်းမာရေး၊ လူမှုရေး၊ သက်သာချောင်ချိရေး စသည့်ကိစ္စရပ်များတွင် သုံးစွဲမည်ဖြစ်ကြောင်း၊ စက်ရုံဝန်ထမ်းများ သက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် စီစဉ်ဆောင်ရွက်ထားမှု တို့ကို တင်ပြထား ပါသည်။

၁၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစား ခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၅။ အဆိုပါလုပ်ငန်းသည် ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်ခြင်းဖြစ်ပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၄၉/၂၀၁၄ ဖြင့် ထုတ်ပြန်ထားသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားတွင် ခွင့်မပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများစာရင်း၊ နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက် ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများစာရင်း၊ သီးခြားပြဋ္ဌာန်းထားသည့် အခြေအနေတစ်ရပ်ရပ် ဖြင့် ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများစာရင်း တို့တွင် မပါဝင်သဖြင့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုနိုင်သောလုပ်ငန်း အမျိုးအစား ဖြစ်ပါသည်။

၁၆။ အဆိုပြုလုပ်ငန်းအား အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၄ခုနှစ် ဇူလိုင်လ ၂၁ ရက် နေ့တွင် ကျင်းပပြုလုပ် သော ၂၈/၂၀၁၄ အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၇။ **စိစစ်တင်ပြချက်**

(က) စက်ရုံဝန်းအတွင်း၌ အသုံးပြုရှိရသောအဆောက်အဦနှင့်ပြင်ဆင်ရမည့် အဆောက်အဦ စာရင်းအား တင်ပြထားပါသည်။

(ခ) လုပ်ငန်းစီမံကိန်း နှင့် မြေငှားရမ်း ကာလမှာ ကနဦး ၁၅ နှစ်နှင့် နောက်ထပ် ၅ နှစ် ၃ ကြိမ် သက်တမ်းတိုး ဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ တရုတ်ပြည်သူ့သမ္မတနိုင်ငံ Hunan Jin Mu Industrial Co., Ltd. မှ ၉၅ % နှင့် မြန်မာ နိုင်ငံသား ဦးအိုက်ဝမ် မှ ၅% ထည့်ဝင်ကာ Myanmar Golden Bonanza Services Co., Ltd. တည်ထောင်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ကယားပြည်နယ်၊ လွိုင်ကော်မြို့နယ်၊ မထောခု

ကျေးရွာအုပ်စု၊ ရေနီကန်ရွာကွင်း၊ အကွက်အမှတ်၂၄၉၊ ဦးပိုင် အမှတ် ၃၀နှင့် ပန်ကန် ကျေးရွာအုပ်စု၊ ဇရပ်ဖြူ အရှေ့ကွင်း၊ အကွက်အမှတ်၂၀၅၊ ဦးပိုင်အမှတ် ၃တို့ရှိ စုစုပေါင်းမြေ ၂၇.၂ ဧက (၁၁၀,၀၇၄.၅၉၂ စတုရန်းမီတာ)အား အမှတ်(၂) သတ္တုတွင်းလုပ်ငန်း၊ သတ္တုတွင်းဝန်ကြီးဌာနမှ ငှားရမ်း၍ ခဲမဖြူ အဖြိုက်နက်နှင့် ရှီးလိုက်ရောရာ သတ္တုများကို ခွဲခြားသန့်စင်ခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဌ(ကိုယ်စား)

(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

# ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| ၁။ | Myanmar Golden Bonanza Services Co., Ltd. | (၁) Mr. Lao Jinsong<br>Managing Director<br>People's Republic of China<br>P. P No. E01067369 | Room-1605, Yunda, International Plaza, No.478, Section 1,Furong Road, kaifu District, Hunan Province, China |
| | | (၂) Mr. Teng Xiaoqiang<br>Director<br>People's Republic of China<br>P. P No. G-40812908 | Room-1605, Yunda, International Plaza, No.478, Section 1,Furong Road, kaifu District, Hunan Province, China |
| | | (၃) ဦးအိုက်ဝမ်<br>ဒါရိုက်တာ<br>၁၃/နခန(နိုင်) ၀၄၁၆၉၇ | စာရေးတန်ရပ်ကွက်၊ နမ့်ခမ်းမြို့၊ ရှမ်းပြည်နယ်။ |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၁-၁၂၂၀၇၀၁၊ ၀၉-၂၅၀၁၅၂၂၄၂

။ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ရာထူး - ဦးဇော်ဝင်း

၄။ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ခဲမဖြူ အဖြိုက်နက်နှင့် ရှီးလိုက်ရောရာ သတ္တုများကို ခွဲခြားသန့်စင်ခြင်း လုပ်ငန်း

၅။ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ -

၆။ ကုမ္ပဏီမှတ်ပုံတင် သက်တမ်းကုန်ဆုံးသည့်နေ့စွဲ -

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် -

နောက်ဆက်တွဲ(က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ကယားပြည်နယ်

စာအမှတ်၊ ၄ / ၈ - ၁၁၉ / ဦး ၅
ရက်စွဲ၊ ၂၀၁၄ခုနှစ် ၊ ဩဂုတ်လ ၂၈ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈ - ၈ - ၂၀၁၄) ရက်စွဲပါစာအမှတ် ၊ ရက - ၅ (၁၁) / ၀၀၁ / ၂၀၁၄ (၂၀)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံ Hunan Jin Mu Industrial Co, Ltd မှ ၉၅% နှင့် မြန်မာနိုင်ငံသား ဦးအိုက်ဝမ်မှ ၅% ဖြင့်မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Golden Bonanza Services Co, Ltd တည်ထောင်ပြီး ကယားပြည်နယ်လွိုင်ကော်မြို့ရှိ အမှတ်(၂)သတ္တုတွင်း လုပ်ငန်းပိုင် ခဲမဖြူ ၊ အဖြိုက်နက်ခွဲခြားသန့်စင်စက်ရုံအားဌားရမ်း၍ စုစုပေါင်းမြေ(၂၇.၂)ဧက လွိုင်ကော်မြို့နယ် ၊မထောရူကျေးရွာအုပ်စု ၊ရေနီကန်ကျေးရွာကွင်းအမှတ်-၂၄၉ ၊ဦးပိုင်အမှတ်-၃၀ ရှိစက်ရုံ ဧရိယာ ဖ.ပြဧကဘ္ဘ ခဲမဖြူ၊ အဖြိုက်နက်နှင့် ရှီးလိုက်ရော ရာသတ္တုများကို သန့်စင်ခြင်း ၊သတ္တုခွဲခြားသည့် စက်များဖြင့် ခွဲခြားခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်နှင့် သဘောထားမှတ်ချက် ပြန်ကြားပေးရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါသဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းပြန်လည် အကြောင်းကြားပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည်နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါ။

(ခ) မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပါသည်။

(ဂ) ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) ပြည်နယ်အစိုးရအဖွဲ့၏ အကြံပြုချက်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(၁) လက်ရှိအသုံးပြုနေသော ရေဆိုးသန့်စင်ရေးစနစ်ဖြစ်သည့် အနည်ထိုင်သန့်စင်ခြင်း စနစ်တွင် နောက်ဆုံး ရေလှောင်ကန်အပါအဝင်အနည်ထိုင်ကန်များအား ပိုမိုသန့်စင်စေရေးအတွက် ရေကန်အတွင်း ဗေဒါပင်များ ထည့်သွင်းစိုက်ပျိုးဆောင်ရွက်သင့်ပါကြောင်း၊

(၂) ဆက်လက်တည်ဆောက်မည့်ရေဆိုးသန့်စင်ရေးစနစ်တွင် ပိုမိုကောင်းမွန်သော နည်းပညာများကို အသုံးပြု၍ ရေဆိုးသန့်စင်ပြီး(Recycle)ပြုလုပ်၍ ပြန်လည်သုံးစွဲခြင်း(Reuse) ပြုလုပ်သင့်ပါကြောင်း၊

(၃) ပတ်ဝန်းကျင်ထိခိုက်နိုင်မှု ရှိ/ မရှိ ရှေးဦးစစ်ဆေးချက် Initial Environmental Examination (IEE)အရ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနသို့ ရေးဆွဲတင်ပြထားသည့် Environmental Management Plan (EMP)ပါအချက်များ အတိုင်း လိုက်နာဆောင်ရွက်မှု ရှိ/ မရှိကို တစ်နှစ်လျှင်(၂)ကြိမ် ကျွမ်းကျင်ပညာရှင်များအဖွဲ့ဖြင့် စစ်ဆေးသင့်ပါကြောင်း၊

(၄) စက်ရုံတည်ဆောက်ရခြင်းနှင့်ပတ်သက်၍ ဒေသခံပြည်သူများ ခံစားရရှိမည့် အကျိုးစီးပွားကို ကျေးရွာသို့ ကွင်းဆင်းပြီး ဒေသခံပြည်သူများနှင့် Public Consultation ကို ပိုမိုလုပ်ကိုင်ရန်နှင့် Corporate Social Responsibility (CSR) အနေဖြင့် ဒေသဖွံ့ဖြိုးရေး လုပ်ငန်းများကို ယခုထက် ပိုမိုဆောင်ရွက်ပေးခြင်းဖြင့် ဒေသခံပြည်သူများ၏ ယုံကြည်မှု ကို ပိုမိုရရှိစေမည်ဖြစ်ပါကြောင်း၊

၃။ သို့ဖြစ်ပါ၍ အဆိုပါစက်ရုံနှင့် စက်ရုံတည်နေရာအခြေအနေအား ကွင်းဆင်းစစ်ဆေးပြီးဖြစ်၍ ကန့်ကွက်ရန် မရှိပါကြောင်း အကြောင်းကြားပါသည်။

ဝန်ကြီးချုပ်( ~~signature~~ )
(မောင်မောင်ဌေး - အတွင်းရေးမှူး)

မိတ္တူကို

- ဝန်ကြီး၊ သစ်တောနှင့်သတ္တုဝန်ကြီးဌာန၊ ကယားပြည်နယ်
- ဝန်ကြီး၊ လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီးဌာန၊ ကယားပြည်နယ်
- အမှတ်(၂) သတ္တုတွင်းလုပ်ငန်း၊ လွိုင်ကော်
- Myanmar Goldel Bonanza Services Co,Ltd
- လက်ခံစာတွဲ / မျှောစာတွဲ

TOK


# MYANMAR GOLDEN BONANZA SERVICES CO., LTD

No.51, Room (1106), Shwe Hin Thar Tower (B), Shwe Hin Thar Street,
Half of 6 Miles, Hlaing Township, Yangon.
Tel: 09-448433333, 01-1220701, Fax : 01-507344 (Ext: 195)


MYANMAR GOLDEN BONANZA CO., LTD.

စာအမှတ် ။ ။ ၀၂၄ / MGB / YGN / (၂၀၁၄)

ရက်စွဲ ။ ။ ၂၀၁၄ခုနှစ်၊ စက်တင်ဘာလ( ၁၂ )ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

ရန်ကုန်မြို့

အကြောင်းအရာ။ ။ကယားပြည်နယ် အစိုးရအဖွဲ့ရုံး၏ သဘောထား မှတ်ချက်နှင့် အညီလိုက်နာဆောင်ရွက်မည့် စီမံချက် တင်ပြခြင်း

ရည်ညွှန်းချက် ။ ။မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄-၉-၂၀၁၄) ရက်စွဲပါစာအမှတ်၊ ရက-၅ (သ)/ ၀၀၁/ ၂၀၁၄ (၄၂)

၁။ ရည်ညွှန်းချက်ပါစာဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ Myanmar Golden Bonanza Services Co.,Ltd သို့ ကယားပြည်နယ် အစိုးရအဖွဲ့ရုံး၏ သဘောထားမှတ်ချက် အတိုင်းလိုက်နာ ဆောင်ရွက်သွားပါရန်နှင့် ဆောင်ရွက်မည့် အခြေအနေကို ကော်မရှင်သို့ ပြန်လည်တင်ပြပါရန် အကြောင်းကြား လာပါသည်။

၂။ သို့ဖြစ်ပါ၍ ကုမ္ပဏီအနေဖြင့် ကယားပြည်နယ် အစိုးရအဖွဲ့ရုံး၏ သဘောထားမှတ်ချက် နှင့်အညီ လိုက်နာဆောင်ရွက်မည့် စီမံချက်ကို အောက်ပါအတိုင်း တင်ပြအပ်ပါသည် -

(က) လက်ရှိအသုံးပြုနေသော ရေဆိုးသန့်စင်ရေးစံနစ် ဖြစ်သည့် အနည်ထိုင်သန့်စင် ခြင်းစနစ်တွင် နောက်ဆုံးရေလှောင်ကန် အပါအဝင် အနည်ထိုင်ကန်များအား ပိုမို သန့်စင်စေရေးအတွက် ရေကန်အတွင်း ဗေဒါပင်များ ထည့်သွင်းစိုက်ပျိုး ဆောင်ရွက်သွားပါမည်။

(ခ) ဆက်လက်တည်ဆောက်မည့် ရေဆိုးသန့်စင်ရေး စနစ်အတွက် အောက်ပါအတိုင်း ဆောင်ရွက်ပါမည်-

(၁) ဤကုမ္ပဏီမှ တာဝန်ရှိသူများနှင့် စက်ရုံတာဝန်ခံ တို့သည် အဆိုပါစက်ရုံအတွက် Environment (Wun Kyin) Myanmar Cooperative (EMC) မှ Chairman သဘာဝပတ်ဝန်းကျင် ပညာရှင် Dr ဝင်းမောင် ခေါင်းဆောင်သောအဖွဲ့ ကွင်းဆင်း၍ စစ်ဆေးရေးဆွဲထားသည့် IEE နှင့် EMP ပါအချက်များအနက်

စက်ရုံမှစွန့်ပစ်ရေများ ထိန်းသိမ်းသန့်စင်ခြင်း လုပ်ငန်းစဉ်များ အတိုင်းလက်တွေ့ အကောင်အထည်ဖော် ဆောင်ရွက်သွားပါမည်။

(၂) စက်ရုံ၏စွန့်ပစ်ရေ (Waste Water) များပြန်လည်သန့်စင်ခြင်း (Recycle)၊ ပြန်လည် အသုံးပြုခြင်း (Reuse) လုပ်ငန်းများ အတွက် ပိုမိုကောင်းမွန်သော နည်းပညာများ သုံးစွဲရန်နှင့် ခေတ်မီ ရေသန့်စင်စက် ပစ္စည်းများ တပ်ဆင် အသုံးပြုရန်အတွက် အမှတ် ၁၉/စီ၊ န၀ဒေး ဉယျာဉ်အိမ်ရာ၊ ရန်ကုန်- ပုသိမ်ကားလမ်း၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့တွင်တည်ရှိသော Supreme Water Doctor Group အားလျာထား ရွေးချယ်ပြီး ၎င်းမှ ရေသန့်စင်စနစ် ဆိုင်ရာကျွမ်းကျင်သူပညာရှင်များနှင့် တိုင်ပင်၍ အသုံးပြုမည့် နည်းစနစ်များ၊ တပ်ဆင်မည့် စက်ပစ္စည်းများ၊ ခန့်မှန်းကုန် ကျစရိတ်နှင့် နှစ်စဉ်ပြုပြင် ထိန်းသိမ်းရေးနည်း စနစ်များ စသည်တို့ကို ဩဂုတ်လ ပထမပတ်မှ စတင်၍ ဆွေးနွေး ဆောင်ရွက်လျက်ရှိပါသည်။

(ဂ) ပတ်ဝန်းကျင် ထိခိုက်မှုရှိ/မရှိ ရှေးဦးစစ်ဆေးချက် Initial Environmental Examination (IEE)အရ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနသို့ ရေးဆွဲတင်ပြထားသည့် Environmental Management Plan (EMP)ပါ အချက် များအတိုင်း လိုက်နာဆောင်ရွက်မှု ရှိ/မရှိကို တစ်နှစ်လျှင် (၂)ကြိမ်ကျွမ်းကျင် ပညာရှင်များ အဖွဲ့ဖြင့် စစ်ဆေးဆောင်ရွက်သွားပါမည်။

(ဃ) စက်ရုံတည်ဆောက်ရခြင်း နှင့်ပတ်သက်၍ ဒေသခံပြည်သူများ ခံစားရရှိမည့် အကျိုးစီးပွားကို ကျေးရွာသို့ ကွင်းဆင်းပြီး ဒေသခံပြည်သူများနှင့် Public Consultation ကို ပိုမိုလုပ်ကိုင် သွားပါမည်။ Corporate Social Responsibility (CSR) အနေဖြင့် ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများကို ယခုထက် ပိုမိုဆောင်ရွက်သွားပါမည်။IEE နှင့် EMP ကို ကွင်းဆင်းစစ်ဆေးဆောင်ရွက်သည့် Environment Myanmar Coopperative (EMC) မှ Dr.ဝင်းမောင် ဦးဆောင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးပညာရှင် အဖွဲ့နှင့် ကုမ္ပဏီအဖွဲ့တို့ ပူးပေါင်း၍ သန့်စင်စက်ရုံ အနီး(၂) ဖာလုံ အကွာရှိရေနီကန်ကျေးရွာ ဘုန်းကြီးကျောင်းတွင် ကျေးရွာသူ/သားများနှင့် (၅-၁၁-၂၀၁၃) ရက်နေ့က တွေ့ဆုံပြီး၊ သန့်စင်စက်ရုံပြန်လည် လည်ပတ်မည့် အစီအစဉ်နှင့် ရပ်ရွာလူမှုစီးပွား အကျိုးပြု (CSR) ဆောင်ရွက်မည့် အစီအစဉ်ကို ရှင်းလင်းတင်ပြခဲ့ပါသည်။ အဆိုပါ တွေ့ဆုံပွဲတွင် ဒေသခံများက တင်ပြသည့် မူလတန်း ကျောင်းအတွက်(၂)ခန်းတွဲ ရေလောင်းအိမ်သာ ဆောက်လုပ်ပေးရေး၊ ကျောင်းသား/သူ (၁၀၂) ဦးအတွက်(၁)ဦးလျှင် ကျောင်းသုံးဗလာစာအုပ်(၁) ဒါဇင်စီ ဖြန့်ဖြူးပေးရေး၊ ဘုန်းကြီးကျောင်းမုခ်ဦး အလှဆင်လုပ်ငန်းတွင် Plain Sheet လှူဒါန်းပေးရန်၊ ရွာအဝင် ပင်မလမ်း ပြုပြင်ရေးလုပ်ငန်းတွင် စက်ကြီးယန္တရား အကူညီပေးရေးတို့ကို ဆောင်ရွက်ပေးခဲ့ပါသည်။ ဆောင်ရွက်ခဲ့သည့် လုပ်ငန်းနှင့် အသေးစိတ်ကုန်ကျစရိတ်ကို ပူးတွဲတင်ပြအပ်ပါသည်။ CSR လုပ်ငန်းများအတွက် (၅)နှစ်စာ နှစ်အလိုက်သုံးစွဲရန် ဘတ်ဂျက်လျာထားခြင်းတို့ကိုလည်း ပူးတွဲတင်ပြအပ်ပါသည်။

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ကယားပြည်နယ် အစိုးရအဖွဲ့ရုံး၏ ဤကုမ္ပဏီက လိုက်နာဆောင်ရွက်ရန် သဘောထားမှတ်ချက်များအား ကုမ္ပဏီတာဝန်ရှိသူများ၊ ပညာရပ်ဆိုင်ရာ အကြံပေးပညာရှင်

ဦးမြင့်လွင်နှင့် သဘာဝပတ်ဝန်းကျင် ပညာရှင် ဒေါက်တာဝင်းမောင်တို့မှ ပြည့်စုံစွာရေးသားပြုစု ဆောင်ရွက်ပြီးဖြစ်၍ ပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(အိုက်ဝမ်)

ဒါရိုက်တာ

Myanmar Golden Bonanza Services Co., Ltd

မိတ္တူကို

- ကယားပြည်နယ် အစိုးရအဖွဲ့ရုံး၊ လွိုင်ကော်မြို့
- အမှတ်(၂) သတ္တုတွင်းလုပ်ငန်း၊ နေပြည်တော်
- ရုံးလက်ခံ

The estimated budget for Corporate Social Responsibities (C.S.R)

| Sr.No | Activities | Year One (USD) | Year Two (USD) | Year Three (USD) | Year Four(USD) | Year Five (USD) |
|---|---|---|---|---|---|---|
| 1 | Budget for Community,health, safety and security | 400 | 400 | 400 | 400 | 500 |
| 2 | Budget for Community and social Development Plan:Electricity and Energy | 300 | 300 | 300 | 300 | 300 |
| 3 | Budget for Community and social Development Plan by providing cash, materials and others: Education | 200 | 200 | 200 | 200 | 200 |
| 4 | Budget for Community and social Development Plan:Human Resources Training | 200 | 200 | 200 | 200 | 200 |
| 5 | Budget for Community and social Development Plan:Water | 200 | 200 | 200 | 200 | 200 |
| 6 | Budget for the Emergency Response Plan Including material and Training | 100 | 200 | 200 | 200 | 200 |
| | Total | 1400 | 1500 | 1500 | 1500 | 1600 |

